Att · ဦးဝင်းအောင်ရှိ (PS)
၄၄/၀၁/၀၅၂
၂၁.၁၂.၁၈

DG 5
27/12/18

အထွေထွေ အရပ်ရပ် -၁၆
(ရုံးတွင်း စာအကျဉ်းချုပ် (သို့မဟုတ်) စာကြမ်းရေးရန်အတွက်)

ရက်စွဲ ၊ ၂၀၁၈ ခုနှစ် ဒီဇင်ဘာလ ၂၀ ရက်

အကြောင်းအရာ။ **ရာခိုင်နှုန်းပြည့် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Global Earth Agro & Aqua Industry Public Company Limited မှ ငါးမွေးမြူခြင်း၊ ပြုပြင်ထုတ်လုပ်ခြင်း၊ အေးခဲခြင်းနှင့် ဆက်စပ်သောလုပ်ငန်းများ (ငါးအစာ၊ ငါးပေါင်းမှုန့်၊ ငါးဆီ) ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ**

၁။ ရာခိုင်နှုန်းပြည့် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Global Earth Agro & Aqua Industry Public Company Limited မှ ကွင်းအမှတ်-၆၂၀(က)၊ ကျုံတုံးချောင်း၊ ကွင်းအမှတ်- ၆၂၀(ခ)၊ ပဥ္စကုန်းနောက်၊ ကွင်းအမှတ်- ၆၂၂(ခ)၊ ပိုက်တန်း၊ မြေနုကျေးရွာ၊ ကွင်းအမှတ်-၆၁၈(ခ)၊ ပဥ္စကုန်းအရှေ့၊ ကွင်းအမှတ်-၆၁၈(ဂ)၊ ပဥ္စကုန်းတောင်၊ ကွင်းအမှတ်-၆၁၉၊ ဥတို၊ ဘုရားကျောင်းကျေးရွာ၊ ပန်းတနော်မြို့နယ်၊ ဧရာဝတီတိုင်းဒေသကြီးရှိ ငါးမွေးမြူရေးကန်မြေ (၃၆၄၄.၁၃)ဧက အနက် မြေ (၉၀၀)ဧကတွင် ငါးမွေးမြူခြင်း၊ ပြုပြင်ထုတ်လုပ်ခြင်း၊ အေးခဲခြင်းနှင့် ဆက်စပ်သောလုပ်ငန်းများ (ငါးအစာ၊ ငါးပေါင်းမှုန့်၊ ငါးဆီ)အား ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကို ၂၀၁၈ ခုနှစ် ဒီဇင်ဘာလ ၁၈ ရက်နေ့တွင် ကျင်းပသော မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၁/၂၀၁၈) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ ကွင်းဆင်းစစ်ဆေးဆောင်ရွက်ပြီးမှသာ ခွင့်ပြုမိန့်ထုတ်ပေးရန် ဆုံးဖြတ်ခဲ့ပါသည်။

၂။ အထက်ပါ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် အစည်းအဝေး ဆုံးဖြတ်ချက်အရ ကွင်းဆင်း စစ်ဆေးရေးအဖွဲ့အား ကော်မရှင်အဖွဲ့ဝင် တစ်ဦးမှ ဦးဆောင်၍ စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာနမှ ကိုယ်စားလှယ် တစ်ဦး၊ ဧရာဝတီတိုင်းဒေသကြီးအစိုးရအဖွဲ့မှ ကိုယ်စားလှယ် တစ်ဦး၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာနမှ ဒုတိယညွှန်ကြားရေးမှူးချုပ် တစ်ဦးတို့ ပါဝင်သောအဖွဲ့ဖြင့် ဖွဲ့စည်းခွင့် ပြုပါရန် နှင့် ကွင်းဆင်းစစ်ဆေးခြင်းအား ၂၀၁၉ ခုနှစ် ဇန်နဝါရီလ ပထမပတ်အတွင်း ဆောင်ရွက်ခွင့်နှင့် အဆိုပါအဖွဲ့ကို ဦးဆောင်မည့် ကော်မရှင် အဖွဲ့ဝင်၏ အမည်အား သတ်မှတ်ပေးနိုင်ပါရန် တင်ပြအပ်ပါသည်။

(အောင်နိုင်ဦး)
အတွင်းရေးမှူး

ဥက္ကဋ္ဌ
၃။ MIC အဖွဲ့ဝင် [illegible] ဦးဆောင်[illegible] [illegible]

၂၁.၁၂.၁၈

# ကန့်သတ်

အကြောင်းအရာ။ ရခိုင်ရှုန်းပြည့် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Global Earth Agro & Aqua Industry Public Company Limited မှ ငါးမွေးမြူခြင်း၊ ပြုပြင်ထုတ်လုပ်ခြင်း၊ အေးခဲခြင်းနှင့် ဆက်စပ်သောလုပ်ငန်းများ(ငါးအစာ၊ ငါးပေါင်းမှုန့်၊ ငါးဆီ) ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ ရင်းနှီးမြှုပ်နှံသူ | - Global Earth Agro & Aqua Industry Public Company Limited<br>- ဦးဌေးမြင့် |
| | ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဍာန် | - ရခိုင်ရှုန်းပြည့်မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု |
| | လုပ်ငန်းအမျိုးအစား | - ငါးမွေးမြူခြင်း၊ ပြုပြင်ထုတ်လုပ်ခြင်း၊ အေးခဲခြင်း နှင့် ဆက်စပ်သောလုပ်ငန်းများ(ငါးအစာ၊ ငါးပေါင်းမှုန့်၊ ငါးဆီ) |
| ၂။ | တည်နေရာ | - ကွင်းအမှတ်-၆၂၀(က)၊ ကျုံတုံးချောင်း၊ ကွင်းအမှတ်- ၆၂၀(ခ)၊ ပဥ္စကုန်းနောက်၊ ကွင်းအမှတ်-၆၂၂(ခ)၊ ပိုက်တန်း၊ မြေနုကျေးရွာ၊ ကွင်းအမှတ်-၆၁၈(ခ)၊ ပဥ္စကုန်းအရှေ့၊ ကွင်းအမှတ်- ၆၁၈(ဂ)၊ ပဥ္စကုန်းတောင်၊ ကွင်းအမှတ်- ၆၁၉၊ ဥတို၊ ဘုရားချောင်းကျေးရွာ၊ ပန်းတနော်မြို့နယ်၊ ဧရာဝတီတိုင်းဒေသကြီး |
| ၃။ | မြေပိုင်ရှင် | - ဦးဌေးမြင့် |
| | မြေအကျယ်အဝန်း | - စုစုပေါင်း မြေ ၃၆၄၄.၁၃ ဧက အနက် မြေ ၉၀၀ ဧက |
| ၄။ | တည်ဆောက်မှုကာလ/ ပြင်ဆင်မှုကာလ | - ၃ နှစ် |
| ၅။ | စုစုပေါင်းမတည်ငွေရင်း ထည့်ဝင်သည့်အမျိုးအစား | - **ကျပ် ၂၀၀,၀၀၀.၀၀၀ သန်း (အမေရိကန်ဒေါ်လာ ၈၈.၄၈၂ သန်း အပါအဝင်)** |

| | ကျပ်(သန်း) | US$ (သန်း) | စုစုပေါင်း ကျပ်(သန်း) |
|---|---|---|---|
| - ငွေသား | ၄၅,၀၀၀.၀၀၀ | - | ၄၅,၀၀၀.၀၀၀ |
| - ငါးသားပေါက်ခြင်းနှင့် ပြုစုစောင့်ရှောက်ခြင်း | | ၀.၆၅၆ | ၉၈၃.၂၅၀ |
| - မြေကန်အစာကျွေးစနစ် | | ၂.၆၀၆ | ၃၉၀၉.၆၆၀ |
| - မြေကန် | ၆၈၈၀.၃၄၀ | ၀.၇၆၄ | ၈၀၂၆.၃၄၀ |
| - စက်ပစ္စည်း | | ၇၄.၂၈၆ | ၁၁၁,၄၂၉.၇၅၀ |
| - ပရိဘောဂနှင့်ရုံးသုံး ပစ္စည်း | ၈၆.၀၀၀ | | ၈၆.၀၀၀ |
| - အဆောက်အဦ | ၁၅,၃၁၀.၀၀၀ | | ၁၅,၃၁၀.၀၀၀ |
| - မော်တော်ယာဉ်နှင့် လုပ်ငန်းသုံးယန္တရားပစ္စည်း | | ၈.၃၅၀ | ၁၂,၅၂၅.၀၀၀ |
| - ဓါတ်အားပေးရုံ | | ၁.၈၂၀ | ၂၇၃၀.၀၀၀ |
| စုစုပေါင်း | ၆၇၂၇၆.၃၄၀ | ၈၈.၄၈၂ | ၂၀၀,၀၀၀.၀၀၀ |

၆။ ဝန်ထမ်းအင်အား(ပထမနှစ်)

- ၂၃၇၉ ဦး

| | ပြည်တွင်း ဝန်ထမ်း | ပြည်ပ ဝန်ထမ်း |
|---|---|---|
| Hatchery, Ground Pond & Nursery Pond | ၃၁၇ | ၁ |
| Fish Feed Mill | ၁၀၅ | ၁ |
| Processing & Coldstorage | ၁၉၁၃ | ၁ |
| Fish Meal Mill | ၄၀ | ၁ |
| စုစုပေါင်း | ၂၃၇၅ | ၄ |

- ၂၃၇၅ ဦး(ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၂၅၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၇၅၀,၀၀၀ ဖြစ်ပါသည်။)
- ၄ ဦး (ပြည်ပ ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ US$ ၅၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ US$ ၂၅၀၀ ဖြစ်ပါသည်။)

၇။ ရောင်းချမည့်စနစ်

- ပြည်ပ ၁၀၀%

နှစ်စဉ်ထုတ်လုပ်မှု(ပုံမှန်နှစ်)

| စဉ် | အမျိုးအစား | အရေအတွက် (MT) | ရောင်းချမည့် ဈေးနှုန်း (US$/MT) |
|---|---|---|---|
| (က) | Fish Fillet | ၂၁၆၀၀ | ၂၈၀၀ |
| (ခ) | Butterfly | ၉၆၀၀ | ၁၄၅၀ |
| (ဂ) | Fish Skin | ၉၆၀ | ၂၅၀၀ |
| (ဃ) | Fish Maw | ၆၀၀ | ၃၀၀၀ |
| (င) | Fish Meal | ၂၄၉၀ | ၇၅၀ |
| (စ) | Fish Oil | ၁၄၄၀ | ၇၀၀ |

၈။ လျှပ်စစ်ဓါတ်အားသုံးစွဲမှု (နှစ်စဉ်)

- ၁၈၂၀၀ ကီလိုဝပ်

၉။ အခြားတင်ပြချက်

- မြေအထောက်အထားအဖြစ် ဦးဒွေးမြင့် အမည်ဖြင့် အသုံးပြုခွင့်ရရှိထားသည့် ငါးမွေးမြူရေးကန်မြေ အထောက်အထားတင်ပြထားပါသည်။

| | | |
|---|---|---|
| | | - ကုမ္ပဏီမှ မျိုးငါးကန် ၁၀၁ ကန်၊ အသားတိုးမွေးမြူရေးကန် ၁၈၁ ကန်တွင် ငါးမွေးမြူရေး လုပ်ငန်း ဆောင်ရွက်ပြီး လုပ်ငန်းနှင့်ဆက်စပ်သော ငါးပြုပြင် ထုတ်လုပ်ရန် အအေးခန်း သိုလှောင်ရုံ၊ ငါးပေါင်းမှုန့်စက်ရုံ၊ ငါးအစာ စက်ရုံများကို ဆောင်ရွက်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။<br>- Global Earth Agro & Aqua Industry Public Company Limited ၏ ကုမ္ပဏီမှတ်ပုံတင် လက်မှတ်၊ သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်း၊ ဒါရိုက်တာ အဖွဲ့ဝင်များ၏ နိုင်ငံသားစိစစ်ရေးကတ်ပြား(မိတ္တူ)များ တင်ပြထားပါသည်။<br>-အဆိုပြုလုပ်ငန်း၏ လုပ်ငန်း စီမံကိန်းအစီအစဉ်၊ လုပ်ငန်းဆောင်ရွက်ပုံ အဆင့်ဆင့်၊ ထုတ်လုပ်မည့် ပစ္စည်းနမူနာပုံများ၊ အဆောက်အဦပုံ၊ တည်နေရာပြမြေပုံများ တင်ပြထားပါသည်။<br>- ပြည်ပမှ တင်သွင်းမည့် Hatchery & Nursery US$ ၀.၆၅၆ သန်း၊ Growout Pond Feeding System US$ ၂.၆၀၆ သန်း၊ Growout Pond US$ ၀.၇၆၄ သန်း၊ စက်ပစ္စည်း US$ ၇၄.၂၈၆ သန်း၊ လုပ်ငန်းသုံးယာဉ် US$ ၈.၃၅၀ သန်း၊ Generator US$ ၁.၈၂၀ သန်း နှင့် ပထမနှစ်တွင် လုပ်ငန်းသုံး ကုန်ကြမ်းများ US$ ၃၃.၄၃၀ သန်း တန်ဖိုးရှိ စာရင်းများ တင်ပြထားပါသည်။<br>- ယာဉ်ယန္တရားစာရင်းတွင် Refer Freezer Truck (၂၀)စီး၊ Cargo Truck for Raw Material (၄၀)စီး၊ Cargo Truck for Finished Goods (၂၅)စီး နှင့် Live Fish Transport Tank Truck (၂၅)စီး တင်သွင်းမည် ဖြစ်ကြောင်း တင်ပြထားပါသည်။<br>ငွေရေးကြေးရေး အထောက်အထားအဖြစ် ဦးဌေးမြင့်(ယုဇန)နှင့် ဒေါ်အေးအေးမော် တို့အမည်ဖြင့် KBZ Bank တွင် ၁၉-၁၀-၂၀၁၈ ရက်နေ့၌ ကျပ် ၁၅,၀၇၁,၅၄၆,၈၁၂.၄၃ ရှိကြောင်း တင်ပြထားပါသည်။ |

| | | |
|---|---|---|
| ၁၀။ | စိစစ်တင်ပြချက် | -ကုမ္ပဏီမှ ဆောင်ရွက်မည့် ငါးမွေးမြူရေးကန် မြေ (၅၀)ကေတွင် စက်ရုံ နှင့် ရုံးအဆောက်အဦ၊ ဝန်ထမ်းအိမ်ရာနှင့် ဆက်စပ် အဆောက်အဦများ တည်ဆောက် အသုံးချခွင့်အား ဧရာဝတီတိုင်းဒေသကြီးအစိုးရအဖွဲ့နှင့် တိုင်းမြေစာရင်း ဦးစီးမှူး၊ စိုက်ပျိုးရေး၊ မွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီးဌာနများသို့ လျှောက်ထားပြီးဖြစ်ကြောင်း တင်ပြထားပါသည်။<br>-အဆိုပြုလုပ်ငန်းသည် ဦးစားပေးမြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှု ကဏ္ဍတွင် ပါဝင်ပြီး ISIC Code- 0321, 1020 တို့တွင် အကျုံးဝင်ပြီး ဇုန် (၂)တွင် ပါဝင်ပါသည်။ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ မရက-၂/ခ-၀၃၄/၂၀၁၈( ၅၇၅ )

ရက်စွဲ ၊ ၂၀၁၈ ခုနှစ် ဒီဇင်ဘာလ ၁၃ ရက်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့

တင်ပြသည့် အမှာစာ

အကြောင်းအရာ။ ရခိုင်ပြည်နယ်ပြည်သူ့ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Global Earth Agro & Aqua Industry Public Company Limited မှ ငါးမွေးမြူခြင်း၊ ပြုပြင်ထုတ်လုပ်ခြင်း၊ အေးခဲခြင်းနှင့် ဆက်စပ်သောလုပ်ငန်းများ (ငါးအစာ၊ ငါးပေါင်းမှုန့်၊ ငါးဆီ) ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်း ကိစ္စ

၁။ ရခိုင်ပြည်နယ်ပြည်သူ့ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Global Earth Agro & Aqua Industry Public Company Limited မှ ကွင်းအမှတ်-၆၂၀(က)၊ ကျုံတုံးချောင်း၊ ကွင်းအမှတ်- ၆၂၀(ခ)၊ ပဋ္ဌကုန်းနောက်၊ ကွင်းအမှတ်-၆၂၂(ခ)၊ ပိုက်တန်း၊ မြေနုကျေးရွာ၊ ကွင်းအမှတ်-၆၁၈(ခ)၊ ပဋ္ဌကုန်းအရှေ့၊ ကွင်းအမှတ်- ၆၁၈(ဂ)၊ ပဋ္ဌကုန်းတောင်၊ ကွင်းအမှတ်- ၆၁၉၊ ဥတို၊ ဘုရားချောင်းကျေးရွာ၊ ပန်းတနော်မြို့နယ်၊ ဧရာဝတီတိုင်းဒေသကြီးရှိ ငါးမွေးမြူရေးကန်မြေ (၃၆၄၄.၁၃)ဧက အနက် မြေ (၉၀၀)ဧကတွင် ငါးမွေးမြူခြင်း၊ ပြုပြင်ထုတ်လုပ်ခြင်း၊ အေးခဲခြင်းနှင့်ဆက်စပ်သောလုပ်ငန်းများ(ငါးအစာ၊ ငါးပေါင်းမှုန့်၊ ငါးဆီ)အား ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြု တင်ပြလာပါသည်။

၂။ ဦးဌေးမြင့် အမည်ဖြင့် အသုံးပြု ခွင့်ရရှိထားသည့် ငါးမွေးမြူရေးကန်မြေ အထောက်အထား နှင့် Layout Plan တို့ကို တင်ပြထားပါသည်။

၃။ တည်ဆောက်ရေးကာလမှာ ၃ နှစ် ကြာမြင့်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၄။ လုပ်ငန်း၏ စုစုပေါင်း မတည်ငွေရင်းမှာ ကျပ် ၂၀၀,၀၀၀.၀၀၀ သန်း (အမေရိကန်ဒေါ် ၈၈.၄၈၂ သန်း အပါအဝင်) ဖြစ်ပါသည်။ ပြည်ပမှ Hatchery & Nursery US$ ၀.၆၅၆ သန်း၊ Growout Pond Feeding System US$ ၂.၆၀၆ သန်း၊ Growout Pond US$ ၀.၇၆၄ သန်း၊ စက်ပစ္စည်း US$ ၇၄.၂၈၆ သန်း၊ လုပ်ငန်းသုံးယာဉ် US$ ၈.၃၅၀ သန်း၊ Generator US$ ၁.၈၂၀ သန်း နှင့် ပထမနှစ်တွင် လုပ်ငန်းသုံး ကုန်ကြမ်းများ US$ ၃၃.၄၃၀ သန်း တင်သွင်းမည် ဖြစ်ပါသည်။

၅။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်း ဝန်ထမ်း (၂၃၇၅)ဦး နှင့် ပြည်ပ ဝန်ထမ်း (၄)ဦး စုစုပေါင်း ဝန်ထမ်းဦးရေ (၂၃၇၉)ဦး ခန့်ထားမည် ဖြစ်ပါသည်။ ပြည်တွင်း ဝန်ထမ်းတစ်ဦး၏

အနိမ့်ဆုံးလစာမှာ ကျပ် ၂၅၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၇၅၀,၀၀၀ ဖြစ်ပါသည်။ ပြည်ပဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ US$ ၅၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ US$ ၂၅၀၀ ဖြစ်ပါသည်။

၆။ ကုမ္ပဏီမှ မျိုးငါးကန် ၁၀၁ ကန်၊ အသားတိုးမွေးမြူရေးကန် ၁၈၁ ကန်တွင် ငါးမွေးမြူရေးလုပ်ငန်းဆောင်ရွက်ပြီး လုပ်ငန်းနှင့် ဆက်စပ်သော ငါးပြုပြင် ထုတ်လုပ်ရန် အအေးခန်းသိုလှောင်ရုံ၊ ငါးပေါင်းမှုန့်စက်ရုံ၊ ငါးအစာ စက်ရုံများကို ဆောင်ရွက်မည် ဖြစ်ပါသည်။ ထုတ်ကုန်များအား ပြည်ပသို့ ၁၀၀% တင်ပို့ရောင်းချမည် ဖြစ်ပါသည်။ အဆိုပြုလုပ်ငန်း၏ ထုတ်လုပ်မှုနှင့် ရောင်းဈေးနှုန်းမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| စဉ် | အမျိုးအစား | အရေအတွက် (MT) | ရောင်းချမည့် ဈေးနှုန်း (US$/MT) |
|---|---|---|---|
| (က) | Fish Fillet | ၂၁၆၀၀ | ၂၈၀၀ |
| (ခ) | Butterfly | ၉၆၀၀ | ၁၄၅၀ |
| (ဂ) | Fish Skin | ၉၆၀ | ၂၅၀၀ |
| (ဃ) | Fish Maw | ၆၀၀ | ၃၀၀၀ |
| (င) | Fish Meal | ၂၄၉၀ | ၇၅၀ |
| (စ) | Fish Oil | ၁၄၄၀ | ၇၀၀ |

၇။ အဆိုပြုလုပ်ငန်းနှင့်ပတ်သက်၍ သက်ဆိုင်ရာ ဝန်ကြီးဌာန အဖွဲ့အစည်းများမှ အောက်ပါအတိုင်း သဘောထား ပြန်ကြားလာပါသည်-

(က) ဧရာဝတီတိုင်းဒေသကြီးအစိုးရအဖွဲ့မှ အဆိုပြုလုပ်ငန်းနှင့် ပတ်သက်၍ သဘောတူညီကြောင်းနှင့် လုပ်ထုံးလုပ်နည်းနှင့်အညီ ဆက်လက်ဆောင်ရွက်သွားရန် ပြန်ကြားလာပါသည်။ **နောက်ဆက်တွဲ(က)**

(ခ) **စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာနမှ** အဆိုပြုလုပ်ငန်းနှင့်ပတ်သက်၍ ကန့်ကွက်ရန် မရှိကြောင်း ပြန်ကြားလာပါသည်။ **နောက်ဆက်တွဲ(ခ)**

(ဂ) **ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဦးစီးဌာနမှ** ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဦးစီးဌာနမှ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်း(Environmental Impact Assessment-EIA) ကို ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ်(၄၉)၊ (၆၃)နှင့်အညီ ပြုစုဆောင်ရွက်ရန် နှင့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP) ကို ရေးဆွဲတင်ပြရမည်ဖြစ်ကြောင်း ပြန်ကြားလာပါသည်။ **နောက်ဆက်တွဲ(ဂ)**

၈။ ငွေကြေးအထောက်အထားအဖြစ် ဦးဌေးမြင့်(ယုဇန)နှင့် ဒေါ်အေးအေးမော် တို့အမည်ဖြင့်KBZ Bankတွင် ၁၉-၁၀-၂၀၁၈ ရက်နေ့၌ ကျပ် ၁၅,၀၇၀,၅၄၆,၈၁၂.၄၃ ရှိကြောင်း တင်ပြထားပါသည်။

၉။ မီးဘေးကြိုတင်ကာကွယ်ရေး စီမံချက်၊ လုပ်ငန်းခွင်သာယာရေးနှင့် ဝန်ထမ်းသက်သာချောင်ချိရေး စီမံချက် နှင့် CSR ဆောင်ရွက်မည့် အစီအစဉ်တို့ကို တင်ပြထားပါသည်။

၁၀။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၈ ခုနှစ် နိုဝင်ဘာလ ၅ ရက်နေ့တွင် ကျင်းပသော အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ (၃၄/၂၀၁၈) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပြီးဖြစ်ပါသည်။

**စိစစ်တင်ပြချက်**

၁၁။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) ကုမ္ပဏီမှ ဆောင်ရွက်မည့် ငါးမွေးမြူရေးကန် မြေ (၅၀)ဧကတွင် စက်ရုံနှင့် ရုံး အဆောက်အဦ၊ ဝန်ထမ်းအိမ်ရာနှင့် ဆက်စပ် အဆောက်အဦများ တည်ဆောက် အသုံးချခွင့်အား ဧရာဝတီတိုင်း ဒေသကြီးအစိုးရ အဖွဲ့နှင့် တိုင်းမြေစာရင်းဦးစီးမှူး၊ စိုက်ပျိုးရေး၊ မွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီးဌာနများသို့ လျှောက်ထားပြီး ဖြစ်ကြောင်း တင်ပြထားပါသည်။

(ခ) အဆိုပြုလုပ်ငန်းသည် ဦးစားပေးမြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှု ကဏ္ဍတွင် ပါဝင်ပြီး ISIC Code- 0321, 1020 တွင် အကျုံးဝင်ပါသည်။

(ဂ) အဆိုပြု လုပ်ငန်းဆောင်ရွက်မည့် နေရာသည် ဇုန်(၂)တွင် ပါဝင်ပါသည်။

(ဃ) ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့် ဥပဒေရေးရာဌာနခွဲမှ ကော်မရှင် ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက်(မူကြမ်း)အား ဥပဒေနှင့်ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၂။ ရခိုင်ရှုန်းပြည့် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Global Earth Agro & Aqua Industry Public Company Limited မှ ငါးမွေးမြူခြင်း၊ ပြုပြင်ထုတ်လုပ်ခြင်း၊ အေးခဲခြင်းနှင့် ဆက်စပ်သော လုပ်ငန်းများ(ငါးအစာ၊ ငါးပေါင်းမှုန့်၊ ငါးဆီ) ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်း ကိစ္စအပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ခွင့်ပြုမိန့် ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)
၆

မိတ္တူကို

ရုံးလက်ခံ/မျှောစာတွဲ

နောက်ဆက်တွဲ-က

လျှို့ဝှက်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

တိုင်းဒေသကြီးအစိုးရအဖွဲ့

ဧရာဝတီတိုင်းဒေသကြီး

စာအမှတ်၊ ၅၀၀/ ၅-၁၆(၆၅၇၅)/အစိုးရ(ဧရာဝတီ)

ရက်စွဲ ၊ ၂၀၁၈ ခုနှစ်၊ ဒီဇင်ဘာလ ၁၀ ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံလာသည့်ကိစ္စ**

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏(၂၆.၁၁.၂၀၁၈)ရက်စွဲပါစာအမှတ်၊ မရက-၂/ခ-၀၃၄/၂၀၁၈(၅၄၆)

ရခိုင်ရွှန်းပြည့် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Global Earth Agro & Aqua Industry Public Company Limited မှ ကွင်းအမှတ်(၆၂၀-က)၊ ကျုံတုံးချောင်း၊ ကွင်းအမှတ်(၆၂၀-ခ)၊ ပဋ္ဌကုန်းနောက်၊ ကွင်းအမှတ်(၆၂၂-ခ)၊ ပိုက်တန်း၊ မြေနုကျေးရွာ၊ ကွင်းအမှတ်(၆၁၈-ခ)၊ ပဋ္ဌကုန်းအရှေ့၊ ကွင်းအမှတ်(၆၁၈-ဂ)၊ ပဋ္ဌကုန်းတောင်၊ ကွင်းအမှတ်(၆၁၉)၊ ဥတိုဘုရားချောင်းကျေးရွာ၊ ပန်းတနော်မြို့နယ်၊ ဧရာဝတီတိုင်းဒေသကြီးအတွင်းရှိ ငါးမွေးမြူရေးကန်မြေ (၃၆၄၄.၁၃)ဧက အနက်မြေ(၉၀၀)ဧကတွင် ငါးမွေးမြူခြင်း၊ ပြုပြင်ထုတ်လုပ်ခြင်း၊ အေးခဲခြင်းနှင့် ဆက်စပ်သောလုပ်ငန်းများအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် Global Earth Agro & Aqua Industry Public Company Limited မှတင်ပြလာမှုအပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုနည်းဥပဒေ ၄၉ အရ ခွင့်ပြုမိန့်အား ရက်ပေါင်း(၆၀)အတွင်း ထုတ်ပေးရမည်ဖြစ်၍ အဆိုပြုလုပ်ငန်းဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ သဘောထားမှတ်ချက်ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် ပေးပို့လာမှုကို (၁၀.၁၂.၂၀၁၈) ရက်နေ့တွင် ကျင်းပပြုလုပ်သော ဧရာဝတီတိုင်းဒေသကြီးအစိုးရအဖွဲ့အစည်းအဝေး အမှတ်စဉ် (၃၈/၂၀၁၈)၊ ဆုံးဖြတ်ချက်(၄) အရ " **သဘောတူညီကြောင်းနှင့် လုပ်ထုံးလုပ်နည်းနှင့်အညီဆက်လက်ဆောင်ရွက်သွားရန်** " သဘောတူဆုံးဖြတ်ခဲ့ပါသဖြင့် သိရှိဆောင်ရွက်နိုင်ပါရန် ပြန်ကြားအပ်ပါသည်။

10/12/2018

ဝန်ကြီးချုပ် ( ကိုယ်စား )

( တင်အောင်ဝင်း၊ စိုက်ပျိုးရေး၊ မွေးမြူရေး၊ သယံဇာတနှင့်ပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီး )

မိတ္တူကို

လုံခြုံစာတွဲ /ရုံးလက်ခံ

လျှို့ဝှက်

နောက်ဆက်တွဲ- ၁

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ**
**စိုက်ပျိုးရေး၊မွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန**
**ပြည်ထောင်စုဝန်ကြီးရုံး**

စာအမှတ်၊ ၃/ ၂၀၀၀/ မွေးရေကျေး( ၆၇၃ /၂၀၁၈)
ရက်စွဲ၊ ၂၀၁၈ ခုနှစ်၊ ဒီဇင်ဘာလ ၃၂ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ ။ **သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၆ - ၁၁ - ၂၀၁၈ ရက်စွဲပါ စာအမှတ်၊ မရက-၂/ ခ-၀၃၄/ ၂၀၁၈ (၅၄၅)

(၂) ငါးလုပ်ငန်းဦးစီးဌာန၏ ၆ - ၁၂ - ၂၀၁၈ ရက်စွဲပါစာအမှတ်၊ငလ/ နပတ-၆/၂၀၁၈ (၈၃၉၆)

၁။ ရခိုင်ပြည်နယ် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Global Earth Agro & Aqua Industry Public Company Limited မှ ဧရာဝတီတိုင်းဒေသကြီး၊ ပန်းတနော်မြို့နယ်၊ ဥတို ဘုရားချောင်းကျေးရွာရှိ ကွင်းအမှတ်-၆၂၀(က) ကျုံတုံးချောင်း၊ ကွင်းအမှတ်- ၆၂၀(ခ) ပဒ္မကုန်း အနောက်၊ ကွင်းအမှတ်-၆၂၂(ခ) ပိုက်တန်း၊ မြေနုကျေးရွာရှိ ကွင်းအမှတ်-၆၁၈(ခ) ပဒ္မကုန်းအရှေ့၊ ကွင်းအမှတ်-၆၁၈(ဂ) ပဒ္မကုန်းတောင်၊ ကွင်းအမှတ်-၆၁၉ တို့ရှိ ငါးမွေးမြူရေးကန် (၃၆၄၄.၁၃)ဧက အနက် မြေ(၉၀၀)ဧကတွင် ငါးမွေးမြူခြင်း၊ ပြုပြင်ထုတ်လုပ်ခြင်း၊ အေးခဲခြင်းနှင့် ဆက်စပ်သော လုပ်ငန်းများအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်တင်ပြမှုအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်း (၁)ပါစာဖြင့် ညှိနှိုင်းအကြောင်းကြားလာပါသည်။

၂။ အဆိုပါကိစ္စနှင့်ပတ်သက်၍ ဧရာဝတီတိုင်းဒေသကြီး ငါးလုပ်ငန်းဦးစီးဌာန၊ မအူပင် ခရိုင်ဦးစီးဌာနမှူး ဦးဆောင်သော ကွင်းဆင်းစစ်ဆေးရေးအဖွဲ့မှ လျှောက်ထားမြေဧရိယာ (၉၀၀) ဧကသို့ ကွင်းဆင်းစစ်ဆေးပြီး တွေ့ရှိချက်များအား ရည်ညွှန်း(၂)ပါစာဖြင့် အောက်ပါအတိုင်း တင်ပြ လာပါသည်-

(က) လျှောက်ထားမြေဧရိယာသည် ဦးဌေးမြင့် (ယုဇနကုမ္ပဏီလီမိတက်)၏ ငါးမွေးကန် ဧရိယာ (၃၆၄၄.၁၃) ဧကများအနက်မှ Global Earth Agro & Aqua Industry Public Company Limited အမည်ဖြင့် ဧက (၉၀၀)အား လျှောက်ထားခြင်း ဖြစ်ကြောင်း၊

(ခ) ကွင်းဆင်းစစ်ဆေးချိန်တွင် ငါးမွေးမြူခြင်းလုပ်ငန်းများအား အဆင့်မြှင့်တင်နိုင်ရေး၊ တစ်ကေလျှင် (၇၀၀၀၀) ကောင် ထည့်သွင်းမွေးမြူနိုင်ရေးအတွက် ငါးမွေးကန် များ ပြန်လည်တူးဖော်ခြင်း၊ အစာကျွေးစက်များတပ်ဆင်ခြင်း၊ လေအေးပေးစနစ် များတပ်ဆင်ခြင်း လုပ်ငန်းများ ဆောင်ရွက်လျက်ရှိကြောင်း၊ ငါးသားပေါက်ထုတ်လုပ် ခြင်း၊ ငါးမှုံပြုစုခြင်းလုပ်ငန်းများ ဆောင်ရွက်ထားရှိပြီးဖြစ်ကြောင်း၊

(ဂ) ကုန်ထုတ်လမ်းများအား ကျောက်ချောလမ်းအဆင့်မြှင့်တင်ခြင်း လုပ်ငန်းများကိုလည်း ဆောင်ရွက်လျက်ရှိကြောင်း၊

(ဃ) ငါးပြုပြင်ထုတ်လုပ်ခြင်းနှင့် အေးခဲလုပ်ငန်းများ လုပ်ကိုင်ဆောင်ရွက်ရန် အစီအမံများ ချမှတ်ထားသော်လည်း စတင်ဆောင်ရွက်ခြင်း မရှိသေးကြောင်း၊

(င) ငါးမွေးမြူခြင်းမှ ထွက်ရှိလာသော ကုန်ကြမ်းများအား ကုန်ချောစနစ်ဖြင့် ပြောင်းလဲထုတ်လုပ်တင်ပို့နိုင်ရန် ဆောင်ရွက်လျက်ရှိကြောင်း ၊

၃။ သို့ဖြစ်ပါ၍ Global Earth Agro & Aqua Industry Public Company Limited သည် အဆင့်မြှင့်ငါးမွေးမြူရေးလုပ်ငန်း လုပ်ကိုင်ခြင်းနှင့် ငါးမွေးကန်မှ ထုတ်လုပ်သည့် ငါးကုန်ကြမ်းများအား အေးခဲပြုပြင်ထုတ်လုပ်၍ ကုန်ချောအဖြစ် တင်ပို့ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြချက်အပေါ် စိုက်ပျိုးရေး၊မွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
လှထွန်း၊ ဒုတိယအမြဲတမ်းအတွင်းဝန်

မိတ္တူ-

(၁) ညွှန်ကြားရေးမှူးချုပ်၊ ငါးလုပ်ငန်းဦးစီးဌာန

(၂) ရုံးလက်ခံ

(၃) မျှော

နောက်ဆက်တွဲ- ဂ

ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ ၀၀၁/ MIC (OSS)/ ၀၁(၇၃၂/၂၅)
ရက်စွဲ၊ ၂၀၁၈ ခုနှစ်၊ ဒီဇင်ဘာလ ၃ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

MIC, 404, 4/12

အကြောင်းအရာ။ **Global Earth Agro & Aqua Industry Public Company Limited မှ ငါးမွေးမြူခြင်း၊ ပြုပြင်ထုတ်လုပ်ခြင်း၊ အေးခဲခြင်းနှင့်ဆက်စပ်သော လုပ်ငန်းများ ဆောင်ရွက်ခွင့်ပြုပါရန် ကိစ္စနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၆-၁၁-၂၀၁၈ ရက်စွဲပါစာအမှတ်၊ မရက-၂/ ခ-၀၃၄/ ၂၀၁၈(၅၄၄)

၁။ ရခိုင်နှုန်းပြည့် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Global Earth Agro & Aqua Industry Public Company Limited မှ ကွင်းအမှတ်- ၆၂၀(က)၊ ကျုံတုံးချောင်း၊ ကွင်းအမှတ်- ၆၂၀(ခ)၊ ပဥ္စကုန်းနောက်၊ ကွင်းအမှတ်- ၆၂၂(ခ)၊ ပိုက်တန်း၊ မြေနုကျေးရွာ၊ ကွင်းအမှတ်- ၆၁၈(ခ)၊ ပဥ္စကုန်းအရှေ့၊ ကွင်းအမှတ်- ၆၁၈(ဂ)၊ ပဥ္စကုန်းတောင်၊ ကွင်းအမှတ်- ၆၁၉၊ ဥတို ဘုရားချောင်းကျေးရွာ၊ ပန်းတနော်မြို့နယ်၊ ဧရာဝတီတိုင်းဒေသကြီးရှိ ငါးမွေးမြူရေးကန်မြေ ၃၆၄၄.၁၃ ဧကအနက်မြေ ၉၀၀ ဧက (၃,၆၄၂, ၁၇၀.၄၀ စတုရန်းမီတာ) တွင် ငါးမွေးမြူခြင်း၊ ပြုပြင်ထုတ်လုပ်ခြင်း၊ အေးခဲခြင်းနှင့်ဆက်စပ်သော လုပ်ငန်းများကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ စိစစ်ပြီး သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါပေးပို့လာသော ရင်းနှီးမြှုပ်နှံမှုဆိုင်ရာအဆိုပြုလွှာအား စိစစ်ရာတွင် အောက်ပါအချက်များကို လေ့လာတွေ့ရှိရပါသည် -

(က) ပေးပို့လာသော အဆိုပြုလွှာတွင် ကနဦးရင်းနှီးမြှုပ်နှံမှုကာလမှာ (၅၀) နှစ်ဖြစ်ပြီး၊ တည်ဆောက်ရေးကာလမှာ (၃) နှစ် ဖြစ်ကြောင်း၊

(ခ) အဆိုပြုလုပ်ငန်းအား စုစုပေါင်းမြေ ၉၀၀ ဧကတွင် ငါးမွေးကန်အတွက် ၈၅၀ ဧကနှင့် ငါးပြုပြင်ထုတ်လုပ်မှု၊ အခဲခံစက်ရုံနှင့် အအေးခန်းသိုလှောင်ရုံ၊ ငါးအစာစက်ရုံ စသည့် အခြားလုပ်ငန်းများအတွက် (၅၀) ဧက သတ်မှတ်အသုံးပြုကာ လိုအပ်သော အဆောက်အဦများ တည်ဆောက်၍ လုပ်ငန်းများ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(ဂ) ဝန်ထမ်းများ သက်သာချောင်ချိရေး အစီအစဉ်များ၊ မီးဘေး ကြိုတင်ကာကွယ်ရေး အစီအမံများကိုလည်းထားရှိ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(ဃ) အဆိုပြုလုပ်ငန်းမှ ထုတ်လုပ်မှုအနေဖြင့် ပထမနှစ်တွင် Fish Fillet (၂၈၀၀)တန်၊ Butterfly (၁၄၅၀) တန်၊ Skin Fish (၂၅၀၀) တန်၊ Fish Maw (၃၀၀) တန်၊ Fish Meal (၇၅၀) တန်၊ Fish Oil (၇၀၀) တန်၊ စုစုပေါင်း (၁၁၂၀၀)တန်နှင့် စတုတ္ထနှစ်နှင့် နောက်ပိုင်းနှစ်များအတွင်း Fish Fillet (၅၄၀၀၀) တန်၊ Butterfly (၂၄၀၀၀) တန်၊ Fish Skin (၂၄၀၀) တန်၊ Fish Maw (၁၅၀၀) တန်၊ Fish Meal (၆၂၂၅) တန်၊

Fish Oil (၃၆၀၀) တန်၊ စုစုပေါင်း (၉၁၇၂၅) တန်ကျော်အား နှစ်စဉ် ထုတ်လုပ်၍ ပြည်ပသို့တင်ပို့ရောင်းချသွားမည် ဖြစ်ကြောင်း၊

(င) လုပ်ငန်းမှရရှိလာမည့် အသားတင်အမြတ်ငွေ၏ (၂%) ကို လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) လုပ်ငန်းများတွင် ထည့်ဝင်အသုံးပြုသွားမည် ဖြစ်ကြောင်း၊

(စ) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနမှထုတ်ပြန်ထားသော ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံး/လုပ်နည်း၊ အမိန့်နှင့် ညွှန်ကြားချက်များကို လိုက်နာဆောင်ရွက်သွားမည် ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

၃။ လုပ်ငန်းလည်ပတ်ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ အောက်ဖော်ပြပါ ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုများဖြစ်ပေါ်လာနိုင်ကြောင်း လေ့လာသုံးသပ်ရပါသည်-

(က) Global Earth Agro & Aqua Industry Public Company Limited မှ ငါးမွေးမြူခြင်း၊ ပြုပြင်ထုတ်လုပ်ခြင်း၊ အေးခဲခြင်းနှင့်ဆက်စပ်သော လုပ်ငန်းများ ဆောင်ရွက်ရန်အတွက် အဆောက်အဦများ တည်ဆောက်ခြင်း၊ ငါးမွေးကန်များတူးဖော်ခြင်း၊ မြေပြုပြင်ခြင်းနှင့် ဆောက်လုပ်ရေးလုပ်ငန်းခွင်မှ ထွက်ရှိလာမည့် ဖုန်မှုန့်များ၊ တုန်ခါမှုများ၊ လုပ်ငန်းသုံး ယာဉ်/ ယန္တရား များမှ ထွက်ရှိလာမည့် စက်ဆီ၊ ချော ဆီ၊ အခိုးအငွေ့များကြောင့် အနီးပတ်ဝန်းကျင်ရှိ လေ ထု၊ မြေထုနှင့် ရေထုညစ်ညမ်းမှု ဖြစ်ပေါ်စေနိုင်ခြင်း၊

(ခ) လုပ်ငန်းသုံး ယာဉ်ယန္တရားများ၏ စွန့်ပစ်ပစ္စည်းများဖြစ်သည့် စက်သုံးဆီ၊ ချောဆီများနှင့် ဆူညံသံများကြောင့် အသံညစ်ညမ်းမှု ဖြစ်ပေါ်နိုင်ခြင်း၊

(ဂ) လုပ်ငန်းများ လည်ပတ်ဆောင်ရွက်ပါက အအေးခန်းများမှထွက်ရှိလာမည့် ငါး၊ ပုစွန် အစအနများ၊ စွန့်ပစ်ရေဆိုးများ၊ အနံ့အသက်များကြောင့် ပတ်ဝန်းကျင် ရေထု၊ မြေထု ညစ်ညမ်းခြင်းနှင့် ပတ်ဝန်းကျင်တွင်နေထိုင်သော ပြည်သူလူထုကို အနှောင့်အယှက်ဖြစ်စေခြင်း၊

(ဃ) အအေးခန်းသိုလှောင်ရုံများတွင် အသုံးပြုမည့် လေအေးပေးစက်များနှင့် ရေခဲစက်များမှ ထွက်ရှိလာမည့် Green House Gas-GHG များကြောင့် ကမ္ဘာ့ကြီးအပူချိန်မြင့်မားမှုနှင့်အိုဇုန်းလွှာ ထိခိုက်ပျက်စီးမှုစသည့် ပတ်ဝန်းကျင်ထိခိုက်မှု ပြဿနာများ ဖြစ်ပေါ်လာနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Global Earth Agro & Aqua Industry Public Company Limited မှ ငါးမွေးမြူခြင်း၊ ပြုပြင်ထုတ်လုပ်ခြင်း၊ အေးခဲခြင်းနှင့်ဆက်စပ်သောလုပ်ငန်းများ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်စပ်လျဉ်း၍ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဆောင်ရွက်ရမည့်လုပ်ငန်းများကို အောက်ပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းများ ကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့်ကျန်းမာရေး ထိခိုက်ပျက်စီးမှုများ ကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာအချက်အလက်များကို

ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့်နည်းစနစ်များ အားအသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာတာဝန်ခံဆောင် ရွက်မှု (Corporate Social Responsibility-CSR) အတွက်အသားတင်အမြတ်ငွေ၏ ၂% ကိုအသုံးပြုခြင်းအပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များကိုတိတိကျကျ လိုက်နာအကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ခ) အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment-EIA)** ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် (၄၉)၊ (၆၃) နှင့်အညီ ပြုစု ဆောင်ရွက်ရန်၊

(ဂ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်း အပိုဒ် ၄၅၊ ၄၆ တို့အရစီမံကိန်းအဆိုပြုသူသည် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းလုပ်ငန်း **(Environmental Impact Assessment-EIA)** မစတင်မီ အဆိုပါလုပ်ငန်းကို ဆောင်ရွက်မည့် တတိယပုဂ္ဂိုလ် (သို့မဟုတ်) အဖွဲ့အစည်းနှင့် စပ်လျဉ်း၍ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၏ ဆုံးဖြတ်ချက်ရယူရန်၊

(ဃ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်း အပိုဒ် ၄၇ မှ အပိုဒ် ၅၄ထိ ဖော်ပြချက်အရ စီမံကိန်းအဆိုပြုသူသည် နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်းအစီရင်ခံစာနှင့်ဆောင်ရွက်မည့်လုပ်ငန်းတာဝန်များကို လမ်းညွှန်ချက်များနှင့်အညီ ဆောင်ရွက်သွားမည့် လုပ်ငန်းတစ်ခုချင်းအလိုက် လေ့လာဆန်းစစ်ပြုစု၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်း သိမ်းရေးဝန်ကြီးဌာနသို့တင်ပြ အတည်ပြုချက်ရယူရန်၊

(င) အတည်ပြုပြီးသော နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်း အစီရင်ခံစာပါအချက်များအပေါ်အခြေခံ၍ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း အပိုဒ် (၆၃) ပါအချက်များနှင့်အညီ **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းအစီရင်ခံစာ (EIA)** ကိုဆောင်ရွက်ပြီးသယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ ရေးဆွဲတင်ပြရန်၊

(စ) အထက်ပါလေ့လာဆန်းစစ်မှု ရလဒ်များကိုအခြေခံ၍ ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့်အစီအစဉ် စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေး ဆောင်ရွက်မည့်လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေစသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP)** ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(ဆ) ပြဋ္ဌာန်းထုတ်ပြန်ထားပြီးဖြစ်သောပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင်ဖော်ပြပါရှိသည့် လိုက်နာဆောင်ရွက်ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန်နှင့် တင်ပြရမည့်အစီအစဉ်အလိုက် လိုအပ်သည့်ပုံစံများဖြည့်စွက်၍တစ်ပါတည်း တင်ပြရန်၊

(ဇ) သက်ဆိုင်ရာတိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်းဆောင်ရွက်မည့် နေရာဒေသတွင် နေထိုင်သော ဒေသခံပြည်သူများ၏ဆန္ဒနှင့် သဘောထားများကိုလည်းရယူ ဆောင်ရွက်ရန်၊

(အောင်သူကျော်)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်(ပတ်ဝန်းကျင်)
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

**မိတ္တူကို**

ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ဧရာဝတီတိုင်းဒေသကြီး
ရုံးလက်ခံ